# Myint Dachan Company Limited မှ တင်ပြသည့် အဆိုပြုလွှာနှင့် စပ်လျဉ်း၍ လုပ်ငန်းဆောင်ရွက်မှုမှတ်တမ်း

## မျိုးကြက်မွေးမြူရေးခြံနှင့် ဥဖောက်ရောင်းချခြင်းလုပ်ငန်း

| စဉ် | ဆောင်ရွက်သည့်အကြောင်းအရာ | ဆောင်ရွက်သည့် ရက်စွဲ | အကြောင်းပြန်ကြားသည့် ရက်စွဲ/ ကုမ္ပဏီမှတင်ပြသည့် ရက်စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အတည်ပြုလျှောက်ထားလွှာ တင်ပြလာခြင်း | | ၂၇-၆-၂၀၁၈ | |
| ၂ | လုပ်ငန်းလိုအပ်ချက်အရ သက်ဆိုင်ရာဝန်ကြီးဌာနများသို့ သဘောထား တောင်းခံခြင်း<br>- ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန (One Stop Service)<br>- စိုက်ပျိုးရေး၊မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန | <br><br><br>၂၉-၆-၂၀၁၈<br><br>၂၉-၆-၂၀၁၈ | <br><br><br>၆-၇-၂၀၁၈<br><br>၁၀-၇-၂၀၁၈ | |
| ၃ | ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဦးစီးဌာန (One Stop Service) မှ သဘောထားပြန်ကြားချက်အရ EIA ဆောင်ရွက်ရမည်ဖြစ်၍ အဆိုပြုချက်ဖြင့် ပြင်ဆင် တင်ပြရန် အကြောင်းကြားခြင်း | ၁၁-၇-၂၀၁၈ | ၁၇-၇-၂၀၁၈ | |
| ၄ | အဆိုပြုချက်စိစစ်ရေးအဖွဲ့ အစည်းအဝေးသို့ တင်ပြခြင်း | ၂၀/၂၀၁၈<br>(၂၃-၇-၂၀၁၈) | | |
| ၅ | အဆိုပြုချက်အားလက်ခံကြောင်း ပြန်ကြားခြင်း | ၂၄-၇-၂၀၁၈ | | |
| ၆ | အဆိုပြုချက်အပေါ်ပြင်ဆင် တင်ပြရမည့် အချက်များ အကြောင်းကြားခြင်း | ၃၀-၇-၂၀၁၈ | ၇-၈-၂၀၁၈ | |
| ၇ | အဆိုပြုချက်အား ကော်မရှင် အစည်းအဝေးသို့ တင်ပြခြင်း | ၁၂/၂၀၁၈<br>(၁၀-၈-၂၀၁၈) | | |
| | **စုစုပေါင်းကြာမြင့်ရက်** | (၄၅) ရက် | | |

ရက်စွဲ။ ၆-၈-၂၀၁၈

# အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ဆွေးနွေးချက်၊ ဆုံးဖြတ်ချက်အပေါ် ဆောင်ရွက်ပြီးစီးမှု

**ကုမ္ပဏီအမည်** Myint Dachan Company Limited

**လုပ်ငန်းအမျိုးအစား** မျိုးကြက်မွေးမြူရေးခြံနှင့် ဥဖောက်ရောင်းချခြင်းလုပ်ငန်း

**PATအကြိမ်/နေ့စွဲ** ၂၀/၂၀၁၈ (၂၃-၇-၂၀၁၈)

| စဉ် | အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ဆုံးဖြတ်ချက်အပေါ် ပြင်ဆင်ရန် အချက်များ | ဆောင်ရွက်ပြီးစီးမှု ပြီး(✓) မပြီး(x) | မှတ်ချက် |
|---|---|---|---|
| ၁ | လုပ်ငန်းအမျိုးအစား ပြင်ဆင် တင်ပြရန်။ | ✓ | |
| ၂ | ပြည်ပမှ တင်သွင်းမည့် စက်ပစ္စည်းစာရင်းတွင် တပ်ဆင်မည့် Generator နှင့် Transformer စာရင်းထည့်သွင်း ဖော်ပြပေးရန်။ | ✓ | |
| ၃ | အဆိုပြုချက် ပုံစံ(၂)တွင် ဝန်ထမ်းအင်အား စာရင်း ဖော်ပြပေးရန်။ | ✓ | |
| ၄ | နှစ်စဉ် လျှပ်စစ်ဓါတ်အား အသုံးပြုမှုအား kWh ဖြင့် ဖော်ပြရန်။ | ✓ | |

အကြောင်းအရာ။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Myint Dachan Company Limited မှ မျိုးကြက်မွေးမြူရေးခြံနှင့် ဥဖောက်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/<br>ရင်းနှီးမြှုပ်နှံသူ | - Myint Dachan Company Limited<br>- ဒေါ်နန်းလင်းလင်းထွန်း |
| | ရင်းနှီးမြှုပ်နှံမှုပုံသဏ္ဌာန် | - ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>Great Wall International (Holding) Ltd. (GWIH)<br>(British Virgin Islands) ၅၁%<br>Myint Investment Livestock Company Limited<br>(Myanmar) ၄၉% |
| | လုပ်ငန်းအမျိုးအစား | - မျိုးကြက်မွေးမြူရေးခြံနှင့် ဥဖောက်ရောင်းချခြင်းလုပ်ငန်း |
| ၂။ | တည်နေရာ | - မြေကွက်အမှတ်(၂၄၊ ၂၅)၊ ညောင်နှစ်ပင်ဟင်းသီးဟင်းရွက်စိုက်ပျိုးထုတ်လုပ်ရေး နှင့် ကြက်/ငါးမွေးမြူရေးအထူးဇုန် (၃)၊ ညောင်နှစ်ပင်ကျေးရွာအုပ်စု၊ မှော်ဘီမြို့နယ် ရန်ကုန်တိုင်းဒေသကြီး။ |
| ၃။ | မြေပိုင်ရှင် | - ဒေါ်အေးအေး |
| | မြေအကျယ်အဝန်း | - စုစုပေါင်း မြေ ၁၀ ဧက |
| ၄။ | နှစ်စဉ် မြေငှားရမ်းခ | - တစ်နှစ်ငှားရမ်းခ ကျပ် ၁၀,၀၀၀,၀၀၀ |
| | မြေငှားရမ်း အသုံးပြုခွင့်သက်တမ်း | - ၅၀ နှစ် |
| ၅။ | ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့်သက်တမ်း | - ၅၀ နှစ် |
| | တည်ဆောက်မှုကာလ/<br>ပြင်ဆင်မှုကာလ | - ၁၂ လ |

**၆။ စုစုပေါင်းမတည်ငွေရင်း** - **US$ ၅.၉၀ သန်း**

ထည့်ဝင်သည့်အမျိုးအစား

| | ပြည်ပ (US$/သန်း) | ပြည်တွင်း (US$/သန်း) | ချေးငွေ (US$/သန်း) | စုစုပေါင်း (US$/သန်း) |
|---|---|---|---|---|
| - ငွေသား | ၀.၃၄ | ၁.၀၅ | - | ၁.၃၉ |
| - စက်ပစ္စည်း | ၁.၁၄ | - | - | ၁.၁၄ |
| - မြေငှားခ | - | ၀.၃၇ | - | ၀.၃၇ |
| - ချေးငွေ | - | - | ၃.၀၀ | ၃.၀၀ |
| **စုစုပေါင်း** | ၁.၄၈ | ၁.၄၂ | ၃.၀၀ | ၅.၉၀ |

**၇။ ဝန်ထမ်းအင်အား** - **၄၅ ဦး**

ပြည်တွင်း - ၄၄ ဦး(ပြည်တွင်း ဝန်ထမ်းတစ်ဦး၏အနိမ့်ဆုံးလစာမှာ ကျပ် ၂၀၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ် ၆၈၀,၀၀၀ ဖြစ်ပါသည်။)

ပြည်ပ - ၁ ဦး (ပြည်ပ ဝန်ထမ်းတစ်ဦး၏ လစာမှာ US$ ၁၀၀၀ ဖြစ်ပါသည်။)

**၈။ ရောင်းချမည့်စနစ်** - ပြည်တွင်း ၁၀၀%

နှစ်စဉ်ထုတ်လုပ်မှု(ပုံမှန်နှစ်)

| စဉ် | အမျိုးအစား | အရေအတွက် (PCS) | ရောင်းချမည့်ဈေးနှုန်း (Kyat/PCS) |
|---|---|---|---|
| (က) | Broiler Chick | ၂၅၂၄၀၀၀ | ၉၀၀ |
| (ခ) | Layer Chick | ၁၅၀၀၀၀၀ | ၉၀၀ |

**၉။ လျှပ်စစ်ဓါတ်အားသုံးစွဲမှု (နှစ်စဉ်)** - ၂,၆၀၀,၀၀၀ kWh

**၁၀။ အခြားတင်ပြချက်** - မြေအထောက်အထားအဖြစ် ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့၊ ညောင်နှစ်ပင် ဟင်းသီးဟင်းရွက်စိုက်ပျိုးထုတ်လုပ်ရေးနှင့်ကြက်/ငါးမွေးမြူရေး အထူးဇုန်ကြီးကြပ်မှု ဗဟိုကော်မတီမှ ဒေါ်အေးအေး အမည်ဖြင့် လုပ်ငန်းလုပ်ကိုင်ခွင့် အထောက်အထား တင်ပြထားပါသည်။

| | | |
|---|---|---|
| | | -မြေပိုင်ရှင် ဒေါ်အေးအေး နှင့် Myint Dachan Company Limited တို့ ချုပ်ဆိုမည့် မြေငှားရမ်းစာချုပ် (မူကြမ်း)၊ British Virgin Islands မှ Great Wall International (Holdings) Ltd. နှင့် မြန်မာနိုင်ငံမှ Myint Investment Livestock Co., Ltd. တို့အကြား ချုပ်ဆိုမည့် Joint Venture Agreement တို့ကိုလည်း တင်ပြထားပါသည်။<br>-ကုမ္ပဏီမှ ချေးငွေ အမေရိကန်ဒေါ်လာ ၃.၀၀ သန်းအား ပြည်တွင်းရှိ နိုင်ငံခြားဘဏ်မှ ချေးယူမည်ဖြစ်ကြောင်း တင်ပြထားပါသည်။<br>-ပြည်ပမှ တင်သွင်းမည့် Parent Stock (Broiler / Layer Breeder) US$ ၂၉၁,၅၅၀ တန်ဖိုး နှင့် စက်ပစ္စည်း US$ ၁,၁၄၂,၀၀၀ တန်ဖိုးရှိ စာရင်းများ တင်ပြထားပါသည်။<br>- ငွေရေးကြေးရေး အထောက်အထားအဖြစ် Great Wall International (Holdings) Ltd အမည်ဖြင့် ဟောင်ကောင်ရှိ HSBC တွင် ၃၀-၅-၂၀၁၈ ရက်စွဲဖြင့် US$ ၈,၀၀၀,၀၀၀ ၊ Myint Dachan Co., Ltd အမည်ဖြင့် AYA Bank တွင် ၁၇-၅-၂၀၁၈ ရက်စွဲဖြင့် US$ ၅၀၈၄.၈၂ ရှိကြောင်း တင်ပြထားပါသည်။<br>- လုပ်ငန်းခွင်သာယာရေးနှင့် ဝန်ထမ်းသက်သာချောင်ချိရေး အစီအစဉ်၊ အညစ်အကြေး စွန့်ပစ်မှု အစီအစဉ် နှင့် CSR Project တို့ကို တင်ပြထားပါသည်။ |
| ၁၁။ | စိစစ်တင်ပြချက် | - အဆိုပြုလုပ်ငန်းသည် ဦးစားပေးမြှင့်တင်မည့် ရင်းနှီးမြှုပ်နှံမှု ကဏ္ဍတွင် ပါဝင်ပြီး ISIC Code- 0146 တွင် အကျုံးဝင်ပါသည်။ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊ မရက-၂/၈-၀၂၄/၂၀၁၈( ၃၆၃ )
ရက်စွဲ ၊ ၂၀၁၈ ခုနှစ် ဩဂုတ်လ ၇ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**
**တင်ပြသည့် အမှာစာ**

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Myint Dachan Company Limited မှ မျိုးကြက်မွေးမြူရေးခြံနှင့် ဥဖောက်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ**

၁။ British Virgin Islands ရှိ Great Wall International (Holding) Ltd. (GWIH) မှ ၅၁% နှင့် မြန်မာနိုင်ငံမှ Myint Investment Livestock Company Limited မှ ၄၉% အစုရှယ်ယာများ ထည့်ဝင်၍ မြန်မာနိုင်ငံတွင် Myint Dachan Company Limited တည်ထောင်ပြီး ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြေကွက်အမှတ် (၂၄၊ ၂၅)၊ ညောင်နှစ်ပင်ဟင်းသီးဟင်းရွက် စိုက်ပျိုးထုတ်လုပ်ရေးနှင့် ကြက်/ငါးမွေးမြူရေးအထူးဇုန်(၃)၊ ညောင်နှစ်ပင်ကျေးရွာအုပ်စု၊ မှော်ဘီမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေ(၁၀)ဧကအား ငှားရမ်း၍ မျိုးကြက်မွေးမြူရေးခြံနှင့် ဥဖောက်ရောင်းချခြင်းလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက် တင်ပြလာပါသည်။

၂။ မြေပိုင်ရှင် ဒေါ်အေးအေး နှင့် Myint Dachan Company Limited တို့ ချုပ်ဆိုမည့် မြေငှားရမ်းစာချုပ် (မူကြမ်း)၊ British Virgin Islands မှ Great Wall International (Holdings) Ltd. နှင့် မြန်မာနိုင်ငံမှ Myint Investment Livestock Co., Ltd. တို့အကြား ချုပ်ဆိုမည့် Joint Venture Agreement ၊ ဒေါ်အေးအေး အမည်ဖြင့် ညောင်နှစ်ပင် ဟင်းသီးဟင်းရွက်စိုက်ပျိုးထုတ်လုပ်ရေးနှင့်ကြက်/ငါးမွေးမြူရေး အထူးဇုန်ကြီးကြပ်မှု ဗဟိုကော်မတီမှ လုပ်ငန်းလုပ်ကိုင်ခွင့် နှင့် Layout Plan တို့ကို တင်ပြထားပါသည်။

၃။ မြေငှားသက်တမ်းမှာ ကနဦး ၅၀ နှစ် ဖြစ်ပါသည်။ မြေဧရိယာ ၁၀ ဧက အတွက် တစ်နှစ်ငှားရမ်းခ ကျပ် ၁၀,၀၀၀,၀၀၀ ဖြစ်ပါသည်။

၄။ လုပ်ငန်းစီမံကိန်းကာလမှာ ကနဦး ၅၀ နှစ် ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ ၁၂ လ ကြာမြင့်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၅။ လုပ်ငန်း၏ စုစုပေါင်း မတည်ငွေရင်းမှာ အမေရိကန်ဒေါ်လာ ၅.၉၀ သန်း (ချေးငွေ US$ ၃.၀၀ သန်း အပါအဝင်) ဖြစ်ပါသည်။ ပြည်ပမှ US$ ၂၉၁,၅၅၀ တန်ဖိုးရှိ Parent Stock (Broiler / Layer Breeder) နှင့် US$ ၁,၁၄၂,၀၀၀ တန်ဖိုးရှိ စက်ပစ္စည်းများ တင်သွင်းမည် ဖြစ်ပါသည်။

၆။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်း ဝန်ထမ်း(၄၄) ဦးနှင့် ပြည်ပဝန်ထမ်း(၁) ဦး စုစုပေါင်း ဝန်ထမ်းဦးရေ ၄၅ ဦး ခန့်ထားမည် ဖြစ်ပါသည်။ ပြည်တွင်း ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံး လစာမှာ ကျပ် ၂၀၀,၀၀၀ နှင့် အမြင့်ဆုံးလစာမှာ ကျပ် ၆၈၀,၀၀၀ ဖြစ်ပါသည်။ ပြည်ပဝန်ထမ်း တစ်ဦး၏ လစာမှာ US$ ၁၀၀၀ ဖြစ်ပါသည်။

၇။ အဆိုပြုလုပ်ငန်းသည် ပြည်တွင်းတွင် ၁၀၀% ရောင်းချမည် ဖြစ်ပါသည်။ အဆိုပြုလုပ်ငန်း၏ ပြည်တွင်း ထုတ်လုပ်မှုနှင့် ရောင်းဈေးနှုန်းမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| စဉ် | အမျိုးအစား | အရေအတွက် (PCS) | ရောင်းချမည့် ဈေးနှုန်း (Kyat/PCS) |
|---|---|---|---|
| (က) | Broiler Chick | ၂၅၂၄၀၀၀ | ၉၀၀ |
| (ခ) | Layer Chick | ၁၅၀၀၀၀၀ | ၉၀၀ |

၈။ အဆိုပြုလုပ်ငန်းနှင့် ပတ်သက်၍ သက်ဆိုင်ရာ ဝန်ကြီးဌာနများမှ အောက်ပါအတိုင်း သဘောထား ပြန်ကြားလာပါသည်-

(က) **စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာနမှ** အဆိုပြုလုပ်ငန်းနှင့် ပတ်သက်၍ ကန့်ကွက်ရန် မရှိကြောင်း ပြန်ကြားလာပါသည်။ **နောက်ဆက်တွဲ(က)**

(ခ) **ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာ ပူးပေါင်းလုပ်ငန်းအဖွဲ့၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဦးစီးဌာနမှ** ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာ ပူးပေါင်းလုပ်ငန်းအဖွဲ့၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးဦးစီးဌာနမှ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်း(Environmental Impact Assessment-EIA) ကို ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ်(၄၉)၊ (၆၃)နှင့်အညီ ပြုစုဆောင်ရွက်ရန် နှင့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP) ကို ရေးဆွဲ တင်ပြရမည်ဖြစ်ကြောင်း ပြန်ကြားလာပါသည်။ **နောက်ဆက်တွဲ(ခ)**

၉။ ငွေရေးကြေးရေး အထောက်အထားအဖြစ် Great Wall International (Holdings) Ltd အမည်ဖြင့် ဟောင်ကောင်ရှိ HSBC တွင် ၃၀-၅-၂၀၁၈ ရက်စွဲဖြင့် US$ ၈,၀၀၀,၀၀၀ ၊ Myint Dachan Co., Ltd အမည်ဖြင့် AYA Bank တွင် ၁၇-၅-၂၀၁၈ ရက်စွဲဖြင့် US$ ၅၀၈၄.၈၂ ရှိကြောင်း တင်ပြ ထားပါသည်။

၁၀။ လုပ်ငန်းခွင်သာယာရေးနှင့် ဝန်ထမ်းသက်သာ ချောင်ချိရေး အစီအစဉ်၊ အညစ်အကြေး စွန့်ပစ်မှုအစီအစဉ် နှင့် CSR Project တို့ကို တင်ပြထားပါသည်။

၁၁။ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၀၁၈ ခုနှစ် ဇူလိုင်လ ၂၃ ရက်နေ့တွင် ကျင်းပပြုလုပ်သည့် ၂၀/၂၀၁၈ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပြီး ဖြစ်ပါသည်။

**စိစစ်တင်ပြချက်**

၁၂။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းသည် ဦးစားပေးမြှင့်တင်မည့် ရင်းနှီးမြှုပ်နှံမှု ကဏ္ဍတွင် ပါဝင်ပြီး ISIC Code- 0146 တွင် အကျုံးဝင်ပါသည်။

(ခ) အဆိုပြုလုပ်ငန်း ဆောင်ရွက်မည့် နေရာသည် ဇုန်(၂)တွင် ပါဝင်ပါသည်။

(ဂ) ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့် ဥပဒေရေးရာဌာနခွဲမှ ကော်မရှင် ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက်(မူကြမ်း)အား ဥပဒေနှင့်ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၃။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Myint Dachan Company Limited မှ မျိုးကြက် မွေးမြူရေးခြံနှင့် ဥဖောက်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်း ကိစ္စအပေါ် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ခွင့်ပြုမိန့် ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို

ရုံးလက်ခံ/မျှောစာတွဲ

နောက်ဆက်တွဲ (က)

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ**

**စိုက်ပျိုးရေး၊ မွေးမြူရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန**

**ပြည်ထောင်စုဝန်ကြီးရုံး**

စာအမှတ်၊ ၃/ ၂၀၀၀/ မွေးရေကျေး( ၃၃၇ /၂၀၁၈)

ရက်စွဲ၊ ၂၀၁၈ ခုနှစ်၊ ဇူလိုင်လ ၁၀ ရက်

အကြောင်းအရာ ။ **သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၉-၆-၂၀၁၈ ရက်စွဲပါစာအမှတ်၊ မရက-၂/ အ-၀၃၃/၂၀၁၈(၂၉၃)

၁။ Myint Dachan Company Limited မှ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ လှည်းကူးမြို့နယ်၊ ကြာအင်းအုပ်စု၊ မှော်ဘီမြို့နယ်နှင့် (၅၁၉-က)၊ ညောင်နှစ်ပင်ကျေးရွာအုပ်စု၊ ကွင်းအမှတ် (၅၁၁-ခ)၊ ကလီထော်အနောက်ကျေးရွာအုပ်စု၊ ကွင်းအမှတ် (၉၇၇)၊ ညောင်နှစ်ပင် ဟင်းသီးဟင်းရွက် စိုက်ပျိုးထုတ်လုပ်ရေးနှင့် ကြက်/ငါးမွေးမြူရေးအထူးဇုန် (၃) ၊ မြေကွက်အမှတ် (၂၄၊၂၅) ရှိ မြေ(၁၀)ဧကအား ငှားရမ်း၍ အသားစားကြက် မျိုးခြံမွေးမြူခြင်းနှင့် သားဖောက်လုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် MIC သို့ အတည်ပြုလျှောက်ထားလွှာ တင်ပြမှုနှင့်စပ်လျဉ်း၍ သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ သို့ဖြစ်ပါ၍ Myint Dachan Company Limited မှ ရန်ကုန်တိုင်းဒေသကြီးတွင် အသားစားကြက်မျိုးခြံမွေးမြူခြင်းနှင့် သားဖောက်လုပ်ငန်းအား မွေးမြူရေးနှင့်ကုသရေးဦးစီးဌာနမှ ထုတ်ပြန်ထားသည့် ဥပဒေ၊ လုပ်ထုံးလုပ်နည်းများ၊ အမိန့်ညွှန်ကြားချက်များ၊ သတ်မှတ်ထားသည့် မွေးမြူရေးလုပ်ငန်းကျင့်စဉ် (GAHP) နှင့်အညီ လိုက်နာဆောင်ရွက်မည်ဆိုပါက အသားစားကြက်မျိုးခြံမွေးမြူခြင်းနှင့် သားဖောက်လုပ်ငန်းသည် ပြည်တွင်းမွေးမြူရေးကဏ္ဍဖွံ့ဖြိုးရေးအတွက် အထောက်အကူပြုသော လုပ်ငန်းဖြစ်ပါသဖြင့် စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)

ဒေါက်တာခင်ဇော်၊ အမြဲတမ်းအတွင်းဝန်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

မိတ္တူ-

(၁) ညွှန်ကြားရေးမှူးချုပ်၊ မွေးမြူရေးနှင့်ကုသရေးဦးစီးဌာန

(၂) ရုံးလက်ခံ

(၃) မျှော

ST/D/MIC/Letter (LBVD)

နောက်ဆက်တွဲ (ခ)

ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ ၀၀၁/ MIC (OSS)/ ၀၁(၄၁/၁၈)
ရက်စွဲ၊ ၂၀၁၈ ခုနှစ်၊ ဇူလိုင်လ ၆ ရက်

MIC 213 6/7

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **Myint Dachan Company Limited မှ အသားစားကြက် မျိုးခြံမွေးမြူခြင်းနှင့် သားဖောက်လုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့်စပ်လျဉ်း၍ သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၉-၆-၂၀၁၈ ရက်စွဲပါစာအမှတ်၊ မရက-၂/အ-၀၃၃/၂၀၁၈(၂၉၂)

၁။ British Virgin Island ရှိ Great Wall International (Holding) Ltd. (GWIH) မှ ၅၁% နှင့် မြန်မာနိုင်ငံမှ Myint Investment Livestock Company Limited မှ ၄၉% အစုရှယ်ယာများ ထည့်ဝင်၍ မြန်မာနိုင်ငံတွင် Myint Dachan Company Limited တည်ထောင်ပြီး ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ လှည်းကူးမြို့နယ်၊ ကြာအင်းအုပ်စု၊ မှော်ဘီမြို့နယ်နှင့် ၅၁၉(က)၊ ညောင်နှစ်ပင်ကျေးရွာအုပ်စု၊ ကွင်းအမှတ်- ၅၁၁(ခ)၊ ကလီထော်အနောက်ကျေးရွာအုပ်စု၊ ကွင်းအမှတ်- ၉၇၇၊ ညောင်နှစ်ပင်ဟင်းသီးဟင်းရွက် စိုက်ပျိုးထုတ်လုပ်ရေးနှင့် ကြက်/ငါးမွေးမြူရေး အထူးဇုန်- ၃၊ မြေကွက်အမှတ်- ၂၄၊ ၂၅ ရှိ မြေ ၁၀ ဧက (၄၀,၄၆၈.၅၆ စတုရန်းမီတာ) ကို ငှားရမ်း၍ အသားစားကြက်မွေးမြူခြင်းနှင့် သားဖောက်လုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန်တင်ပြလာခြင်းနှင့် စပ်လျဉ်း၍ စိစစ်ပြီး သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာ ပါသည်။

၂။ အဆိုပါပေးပို့လာသော ရင်းနှီးမြှုပ်နှံမှုဆိုင်ရာအဆိုပြုလွှာအား စိစစ်ရာတွင် အောက်ပါအချက်များကို လေ့လာတွေ့ရှိရပါသည် -

(က) ပေးပို့လာသော အဆိုပြုလွှာတွင် ကနဦးရင်းနှီးမြှုပ်နှံမှုကာလမှာ (၅၀) နှစ်ဖြစ်ပြီး၊ တည်ဆောက်ရေးကာလမှာ (၁) နှစ် ဖြစ်ကြောင်း၊

(ခ) အဆိုပြုလုပ်ငန်းအား မြေ (၄၀,၄၆၈.၅၆ စတုရန်းမီတာ) ပေါ်တွင် အသားစားကြက်မွေးမြူခြင်းနှင့်သားဖောက်လုပ်ငန်းအတွက် လိုအပ်သောအဆောက်အဦများ တည်ဆောက်ကာ လုပ်ငန်း ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(ဂ) ဝန်ထမ်းများ သက်သာချောင်ချိရေး အစီအစဉ်များ၊ မီးဘေးကြိုတင်ကာကွယ်ရေး အစီအမံများကိုလည်းထားရှိ ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(ဃ) အဆိုပြုလုပ်ငန်းမှ နှစ်စဉ် အသားစားကြက်ကောင်ရေ (၂၅) သိန်းကျော်နှင့် ဥစားကြက်ကောင်ရေ (၁၅) သိန်းခန့် သားဖောက်ခြင်းနှင့် မွေးမြူခြင်းလုပ်ငန်း ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(င) လုပ်ငန်းမှရရှိလာမည့် အသားတင်အမြတ်ငွေ၏ (၂%) ကို လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) လုပ်ငန်းများတွင် ထည့်ဝင်အသုံးပြုသွားမည် ဖြစ်ကြောင်း၊

(စ) သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာနမှထုတ်ပြန်ထားသော ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံး/လုပ်နည်း၊ အမိန့်နှင့်ညွှန်ကြားချက်များကို လိုက်နာဆောင်ရွက်သွားမည်ဖြစ်ကာ လိုအပ်သော စွန့်ပစ်ရေသန့်စင်သောစနစ်ကိုလည်း တပ်ဆင်ဆောင်ရွက်မည် ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။

၃။ လုပ်ငန်းလည်ပတ်ဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ အောက်ဖော်ပြပါ ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှုများဖြစ်ပေါ်လာနိုင်ကြောင်း လေ့လာသုံးသပ်ရပါသည်-

(က) Myint Dachan Company Limited မှ အသားစားကြက်မျိုးခြံမွေးမြူခြင်းနှင့်သားဖောက်လုပ်ငန်း ဆောင်ရွက်ရာတွင် အဆောက်အဦများ ဆောက်လုပ်ရန်အတွက် မြေတူးခြင်း၊ မြေသားပြုပြင်ဖော်ထုတ်ခြင်း လုပ်ငန်းများမှ ထွက်ရှိလာမည့် မြေသား အမှုန်အမွှားများနှင့် ဖုန်မှုန့် များကြောင့် လေထုညစ်ညမ်းခြင်း၊

(ခ) တည်ဆောက်လုပ်ငန်းသုံး ယာဉ်ယန္တယားများနှင့် စက်ပစ္စည်းများမှထွက်ရှိလာမည့်စက်ဆီ၊ ချောဆီနှင့် စွန့်ပစ်ပစ္စည်းများကြောင့် ပတ်ဝန်းကျင်ရှိ မြေထု၊ ရေထုနှင့် လေထုညစ်ညမ်းခြင်း၊

(ဂ) မျိုးကြက်မွေးမြူခြင်းနှင့် ရက်သားကြက်သား ဖောက်ခြင်းလုပ်ငန်း ဆောင်ရွက်ရာတွင် ထွက်ရှိလာမည့် ကြက်ဥအခွံများ၊ ကြက်ဥပုပ်များအား စနစ်တကျမစွန့်ပစ်ပါကပတ်ဝန်းကျင်ရှိ မြေထုနှင့်လေထု ညစ်ညမ်းစေနိုင်ခြင်း၊

(ဃ) ကြက်ဥများကို သားဖောက်ခြင်းမပြုမီ ပိုးသတ်ဆေးဖြန်းခြင်း လုပ်ငန်းမှ ထွက်ရှိလာမည့် စွန့်ပစ်ရေဆိုးများနှင့် toxic compound များကြောင့် ပတ်ဝန်းကျင်မြေထု/ ရေထုညစ်ညမ်းခြင်းနှင့် လုပ်သားများ၏ ကျန်းမာရေးကို ထိခိုက်စေနိုင်ခြင်း၊

(င) မျိုးကြက်များအား မွေးမြူထားစဉ် ကြက်ခြံအတွင်းမှ ထွက်ရှိလာမည့် ကြက်ချေးများ၊ အစာကြွင်းအစာကျန် ဆေးကြောသည့်နေရာများမှ ထွက်ရှိလာမည့် စွန့်ပစ်အရည်/ပစ္စည်းများနှင့် အစာသိုလှောင်သည့်နေရာနှင့် ကြက်မွေးမြူထားသည့် ပတ်ဝန်းကျင်နေရာများမှ ဆက်စပ်အနံ့ဆိုးများ ပျံ့နှံ့ရောက်ရှိခြင်းတို့ကြောင့် ပတ်ဝန်းကျင်ညစ်ညမ်းခြင်းနှင့်ပတ်ဝန်းကျင်ရှိ ပြည်သူလူထုကို ကျန်းမာရေး ထိခိုက်စေခြင်းစသည့် ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှုပြဿနာများ ဖြစ်ပေါ်လာစေနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ Myint Dachan Company Limited မှ အသားစားကြက် မျိုးခြံမွေးမြူခြင်းနှင့်သားဖောက်လုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန်တင်ပြလာခြင်းကိစ္စနှင့်စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာဆောင်ရွက်ရမည့်လုပ်ငန်းများကို အောက်ပါအတိုင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့်ကျန်းမာရေး ထိခိုက်ပျက် စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအားအသုံးပြုရန်နှင့် အဆိုပြုလွှာတွင်ဖော်ပြထားသည့် လူမှုရေးဆိုင်ရာ တာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) အတွက်အသားတင်အမြတ်ငွေ၏ ၂% ကိုအသုံးပြုခြင်းအပါအဝင် ဆောင်ရွက်ပေးသွားမည့် ကတိကဝတ်များကို တိတိကျကျ လိုက်နာ အကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(ခ) အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ **ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment-EIA)** ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ် (၄၉)၊ (၆၃) နှင့်အညီ ပြုစုဆောင်ရွက်ရန်၊

(ဂ) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်း အပိုဒ် ၄၅၊ ၄၆ တို့အရစီမံကိန်းအဆိုပြုသူသည် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းလုပ်ငန်း **(Environmental Impact Assessment-EIA)** မစတင်မီ အဆိုပါလုပ်ငန်းကို ဆောင်ရွက်မည့် တတိယပုဂ္ဂိုလ် (သို့မဟုတ်) အဖွဲ့အစည်းနှင့် စပ်လျဉ်း၍ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၏ ဆုံးဖြတ်ချက်ရယူရန်၊

(ဃ) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်း အပိုဒ် ၄၇ မှ အပိုဒ် ၅၄ထိ ဖော်ပြချက်အရ စီမံကိန်းအဆိုပြုသူသည် နယ်ပယ်အတိုင်းအတာ သတ်မှတ်ခြင်းအစီရင်ခံစာနှင့်ဆောင်ရွက်မည့်လုပ်ငန်းတာဝန်များကို လမ်းညွှန်ချက်များနှင့်အညီ ဆောင်ရွက်သွားမည့် လုပ်ငန်းတစ်ခုချင်းအလိုက် လေ့လာဆန်းစစ်ပြုစု၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်း သိမ်းရေးဝန်ကြီးဌာနသို့တင်ပြ အတည်ပြုချက်ရယူရန်၊

(င) အတည်ပြုပြီးသော နယ်ပယ်အတိုင်းအတာ သတ်မှတ်ခြင်း အစီရင်ခံစာပါအချက်များအပေါ်အခြေခံ၍ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း အပိုဒ် (၆၃) ပါအချက်များနှင့်အညီ **ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းအစီရင်ခံစာ (EIA)** ကိုဆောင်ရွက်ပြီးသယံဇာတနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာနသို့ ရေးဆွဲတင်ပြရန်၊

(စ) အထက်ပါလေ့လာဆန်းစစ်မှု ရလဒ်များကိုအခြေခံ၍ ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုမဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့်အစီအစဉ် စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည် စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးစေရေး ဆောင်ရွက်မည့်လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေစသည်တို့ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ်** (Environmental Management Plan-EMP) ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း

ဆိုင်ရာလုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်။

(ဆ) ပြဋ္ဌာန်းထုတ်ပြန်ထားပြီးဖြစ်သောပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင်ဖော်ပြပါရှိသည့် လိုက်နာဆောင်ရွက်ရမည့်အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရန်နှင့် တင်ပြရမည့်အစီအစဉ်အလိုက် လိုအပ်သည့်ပုံစံများဖြည့်စွက်၍တစ်ပါတည်း တင်ပြရန်၊

(ဇ) သက်ဆိုင်ရာတိုင်းဒေသကြီး အစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် လုပ်ငန်းဆောင်ရွက်မည့် နေရာဒေသတွင် နေထိုင်သော ဒေသခံပြည်သူများ၏ဆန္ဒနှင့် သဘောထားများကိုလည်းရယူဆောင်ရွက်ရန်၊

6/12/17.

(အောင်သူကျော်)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင် (ပတ်ဝန်းကျင်)
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

**မိတ္တူကို**

ပြည်ထောင်စုဝန်ကြီးရုံး
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ရုံးလက်ခံ